အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရှင်သန်သူအများပိုင်ကုမ္ပဏီလီမိတက် တည်ထောင်ကာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မီးပုံးပျံစီး၍ ရှုခင်းများပြသခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - ရှင်သန်သူ အများပိုင်ကုမ္ပဏီလီမိတက် |
| | ရင်းနှီးမြှုပ်နှံသူ | - ဦးမျိုးမင်းဦး |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - မီးပုံးပျံစီး၍ ရှုခင်းများ ပြသခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မန္တလေးတိုင်းဒေသကြီး၊ ညောင်ဦးမြို့နယ်၊ ညောင်ဦးမြို့၊ အမှတ် (၇)၊ ကွင်းအမှတ်-၁၅၁၈၊ ဝက်ကြီးအင်း-W |
| ၃။ | မြေပိုင်ရှင် | - ဒေါ်သဲမဥ္ဇူမြင့်၊ ဦးမျိုးမင်းဦး |
| | မြေအကျယ်အဝန်း | - ၀.၉၀ ဧက နှင့် ၀. ၇၆ ဧက |
| | မြေ/အဆောက်အအုံ ငှားရမ်းခ | - |
| | မြေ/အဆောက်အအုံငှားရမ်း /အသုံးပြုခွင့်သက်တမ်း | - |
| ၄။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့် သက်တမ်း | - |
| ၅။ | တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ | - ၆ လ |
| ၆။ | စုစုပေါင်းမတည်ငွေရင်း ထည့်ဝင်သည့်အမျိုးအစား | **- ကျပ် ၂,၀၆၆.၅၁ သန်း** |

| | ကျပ် (သန်း) | US$ (သန်း) | စုစုပေါင်း ကျပ် (သန်း) |
|---|---|---|---|
| ငွေသား | ၉၅.၅၀ | - | ၉၅.၅၀ |
| မော်တော်ယာဉ် | - | ၀.၄၃ | ၅၈၀.၅၀ |
| မီးစက် | - | ၀.၀၉ | ၁၂၁.၅၀ |
| Hot Air Balloon | - | ၀.၉၄ | ၁,၂၆၉.၀၀ |
| စုစုပေါင်း | **၉၅.၅၀** | **၁.၄၆** | **၂,၀၆၆.၅၀** |

| | | |
|---|---|---|
| ၇။ | နှစ်စဉ်ဝန်ဆောင်မှု | **ဝန်ဆောင်မှုနှုန်း US$/တစ်ဦး** ၃၀၀<br>**မျှော်မှန်းခရီးသည်/ တစ်နှစ်** ၂,၈၈၀ |
| ၈။ | ဝန်ထမ်းခန့်ထားမှု | (**ပြည်တွင်း** / **ပြည်ပ**)<br>**ဦးရေ** ၂၂ ဦး / ၈ ဦး<br>**အမြင့်ဆုံးလစာ** US$ ၂,၀၀၀ / US$ ၄,၅၀၀<br>**အနိမ့်ဆုံးလစာ** US$ ၂၀၀ |
| ၈။ | အခြားတင်ပြချက် | - ငွေကြေးအထောက်အထားအဖြစ် KBZ Bank (ကမာရွတ်ဘဏ်ခွဲ) တွင် ဒေါ်သဲမဥ္ဇူမြင့် အမည်ဖြင့် ကျပ် ၂၉၇,၀၀၀,၀၀၀ ရှိကြောင်း တင်ပြထားပါသည်။<br>- ရှင်သန်သူအများပိုင်ကုမ္ပဏီလီမိတက်၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများအား တင်ပြထားပါသည်။ |
| ၉။ | စိစစ်တင်ပြချက် | - ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။<br>- ကော်မရှင်မှ အတည်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်း လိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။<br>- မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ အတည်ပြုလုပ်ငန်း ဆောင်ရွက်ခြင်း နှင့်စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိကြောင်း ညောင်ဦးခရိုင်၊ ခရိုင်အုပ်ချုပ်ရေးမှူးသို့ ပြန်ကြားထားကြောင်း စိစစ်တွေ့ရှိရပါသည်။ |



Salient

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(အ)/အ-၀၂၂/ ၂၀၁၈( ၁၂၁ )

ရက်စွဲ၊ ၂၀၁၈ ခုနှစ် မေ လ ၁၀ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့

## တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရှင်သန်သူအများပိုင် ကုမ္ပဏီလီမိတက် တည်ထောင်ကာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မီးပုံးပျံစီး၍ ရှုခင်းများ ပြသခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရှင်သန်သူအများပိုင်ကုမ္ပဏီလီမိတက်မှ မန္တလေးတိုင်းဒေသကြီး၊ ညောင်ဦးမြို့နယ်၊ ညောင်ဦးမြို့၊ အမှတ် (၇)၊ ကွင်းအမှတ်-၁၅၁၈၊ ဝက်ကြီးအင်း-W တွင် မီးပုံးပျံစီး၍ ရှုခင်းများပြသခြင်းလုပ်ငန်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အတည်ပြုတင်ပြလာပါသည်။

၂။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ ရှင်သန်သူ အများပိုင် ကုမ္ပဏီလီမိတက်၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများကို ပူးတွဲတင်ပြထားပါသည်။

၃။ အတည်ပြုလုပ်ငန်း၏ တည်ဆောက်ရေးကာလမှာ ၆ လ ဖြစ်ပါသည်။

၄။ အတည်ပြုလုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ ကျပ် ၂,၀၆၆.၅၀ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| ထည့်ဝင်မည့်အမျိုးအစား | ကျပ် (သန်း) | US$ (သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|
| ငွေသား | ၉၅.၅၀ | - | ၉၅.၅၀ |
| မော်တော်ယာဉ် | - | ၀.၄၃ | ၅၈၀.၅၀ |
| မီးစက် | - | ၀.၀၉ | ၁၂၁.၅၀ |
| Hot Air Balloon | - | ၀.၉၄ | ၁,၂၆၉.၀၀ |
| **စုစုပေါင်း** | **၉၅.၅၀** | **၁.၄၆** | **၂,၀၆၆.၅၀** |

၅။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း ၂၂ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၂၀၀ နှင့် အမြင့်ဆုံးလစာမှာ အမေရိကန်

ဒေါ်လာ ၂,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း ၈ဦးခန့်ထားမည်ဖြစ်ပြီး လစာမှာ အမေရိကန်ဒေါ်လာ ၄,၅၀၀ ဖြစ်ပါသည်။

၆။ အတည်ပြုလုပ်ငန်းသည် မီးပုံးပျံစီး၍ရှုခင်းများကြည့်ရှုခြင်းလုပ်ငန်းကို တစ်ဦးလျှင် အမေရိကန်ဒေါ်လာ ၃၀၀နှုန်းဖြင့် ဝန်ဆောင်မှုပေးမည်ဖြစ်ပြီး မျှော်မှန်းခရီးသည် တစ်နှစ်လျှင် ၂,၈၈၀ ဦး ရှိကြောင်း တင်ပြထားပါသည်။

၇။ အတည်ပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ မီးပုံးပျံလုပ်ငန်းဆောင်ရွက်လိုခြင်းကိစ္စနှင့် စပ်လျဉ်း၍ Air Operate Certificate–AOC လျှောက်ထားလာပါက လုပ်ထုံးလုပ်နည်းနှင့်အညီ စိစစ်ဆောင်ရွက်ပေးသွားမည်ဖြစ်ပြီး လုပ်ငန်းဆောင်ရွက်ရန်အပေါ် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ)**

၈။ ငွေကြေးအထောက်အထားအဖြစ် KBZ Bank (ကမာရွတ်ဘဏ်ခွဲ) တွင် ဒေါ်သဲမဥ္ဇူမြင့် အမည်ဖြင့် ကျပ် ၂၉၇,၀၀၀,၀၀၀ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၉။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အတည်ပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်များနှင့်Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

(ဂ) ကော်မရှင်မှအတည်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။

(ဃ) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ အတည်ပြုလုပ်ငန်းဆောင်ရွက်ခြင်း နှင့်စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိကြောင်း ညောင်ဦးခရိုင်၊ ခရိုင်အုပ်ချုပ်ရေးမှူးသို့ ပြန်ကြားထားကြောင်း စိစစ်တွေ့ရှိရပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၀။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရှင်သန်သူအများပိုင်ကုမ္ပဏီလီမိတက်မှ မီးပုံးပျံစီး၍ ရှုခင်းများပြသခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုချက် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ အတည်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

နောက်ဆက်တွဲ



M4-0341
29.3.2018

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ပဆ-၂/လက(DCA) ထွေ(၃/၁၄၆)(၂၀၁၈)
ရက်စွဲ ၊ ၂၀၁၈ ခုနှစ်၊ မတ်လ ၂၂ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၉-၁-၂၀၁၈) ရက်စွဲပါ စာအမှတ်၊ မရက-၅ (အ)/ အ-၀၂၂/ ၂၀၁၈ (၀၂၄)

(၂) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ (၇.၂.၂၀၁၈) ရက်စွဲပါ စာအမှတ်၊ ပဆ-၂/ လက(DCA) ထွေ (၂/ ၆၉ )

၁။ ရှင်သန်သူအများပိုင်ကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် မန္တလေးတိုင်းဒေသကြီး၊ ညောင်ဦးမြို့နယ်၊ ဝက်ကြီးအင်းဒေသတွင် မီးပုံးပျံစီး၍ ရှုခင်းများပြသခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာသည့်ကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်အား ၂၀၁၈ ခုနှစ်၊ ဖေဖော်ဝါရီလ (၂)ရက်နေ့ နောက်ဆုံးထား၍ ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်း (၁)ပါစာဖြင့် အကြောင်းကြားလာမှုအပေါ် လက်ရှိ မီးပုံးပျံ ပျံသန်းခွင့်ပြုသည့် အရေအတွက်အပြင် ထပ်တိုးပျံသန်းမည်ဆိုပါက ဘေးအန္တရာယ်ကင်းရှင်းစေရေးအတွက် Inspection Team ဖွဲ့စည်း၍ သေချာစွာစစ်ဆေးဆောင်ရွက်ပြီး သက်ဆိုင်ရာအဖွဲ့အစည်းများနှင့် ပေါင်းစပ် ညှိနှိုင်းဆောင်ရွက်ပြီးမှသာ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်မည် ဖြစ်ပါကြောင်း ရည်ညွှန်း (၂)ပါစာဖြင့် ပြန်ကြားထားသည့် ကိစ္စဖြစ်ပါသည်။

၂။ ရှင်သန်သူအများပိုင်ကုမ္ပဏီလီမိတက်မှ မီးပုံးပျံကုမ္ပဏီတည်ထောင်၍ ပုဂံညောင်ဦးဒေသတွင် အခကြေးငွေဖြင့် မီးပုံးပျံ ပျံသန်းခွင့်ပြုပါရန် တင်ပြလျှောက်ထားလာမှုနှင့် ပတ်သက်၍ လေကြောင်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာနမှ စစ်ဆေးရေးအဖွဲ့သည် (၂၆.၂.၂၀၁၈)ရက်နေ့တွင် ပုဂံညောင်ဦးဒေသသို့ သွားရောက်၍ လက်ရှိမီးပုံးပျံလုပ်ငန်းဆောင်ရွက်လျက်ရှိသော ကုမ္ပဏီ(၃)ခုနှင့် ရှင်သန်သူအများပိုင်ကုမ္ပဏီလီမိတက်တို့မှ တာဝန်ရှိသူများ၊ ပုဂံဒေသမီးပုံးပျံပျံသန်းမှုကြီးကြပ်ရေးကော်မတီတို့နှင့် မြေပြင်ကွင်းဆင်းကြည့်ရှုစစ်ဆေးခြင်းနှင့် ညှိနှိုင်း အစည်းအဝေးတစ်ရပ် ကျင်းပပြုလုပ်ခဲ့ကြပြီး ညှိနှိုင်းဆွေးနွေးရရှိမှုအခြေအနေများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) ပုဂံညောင်ဦးဒေသသည် ရှေးဟောင်းယဉ်ကျေးမှုနယ်မြေဖြစ်သည့်အပြင် ပုဂံညောင်ဦး လေဆိပ်တည်ရှိခြင်းတို့ကြောင့် မီးပုံးပျံပျံသန်းရာတွင် ကန့်သတ်ချက်များနှင့် မီးပုံးပျံ အတက်အဆင်းကွင်းများအတွက် မြေနေရာ ကန့်သတ်ချက်များ ရှိပါကြောင်း၊

(ခ) အဆိုပါ ကန့်သတ်ချက်များကြောင့် မီးပုံးပျံ ပျံသန်းရာတွင် မီးပုံးပျံ ပိုက်လော့များ အတွက် အပိုဝန်ပိမှုများ (Workload Stress) ဖြစ်ပေါ်စေသော်လည်း လက်ရှိ ပျံသန်းခွင့်ပြုထားသည့် မီးပုံးပျံအရေအတွက်(၂၁)လုံးဖြင့် ဘေးအန္တရာယ်ကင်းရှင်းစွာ ပျံသန်းနိုင်ပါကြောင်း၊

(ဂ) မီးပုံးပျံကုမ္ပဏီအသစ်တစ်ခု ထပ်တိုးခွင့်ပြုမည်ဆိုပါက လက်ရှိ မီးပုံးပျံကုမ္ပဏီများ အနေဖြင့် ကန့်ကွက်ရန်မရှိသော်လည်း ဧရိယာကန့်သတ်ချက်များကို ရှေးဟောင်း ယဉ်ကျေးမှုဦးစီးဌာနအနေဖြင့် ဖြေလျှော့ပေးစေလိုကြောင်း၊

(ဃ) လက်ရှိဆောင်ရွက်လျက်ရှိသော မီးပုံးပျံကုမ္ပဏီများသို့လည်း အရေအတွက် ထပ်မံ တိုးမြှင့်ပေးစေလိုကြောင်း၊

(င) လေကြောင်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန စစ်ဆေးရေးအဖွဲ့အနေဖြင့် ဆွေးနွေး ချက်များအရ အဓိကကန့်သတ်ချက်မှာ မီးပုံးပျံ အတက်/ အဆင်းကွင်း နေရာအား ယခင်ခွင့်ပြုခဲ့သည့် ရွှေစည်းခုံဘုရားအနီး ဘောလုံးကွင်းနှင့် နန်းကြည့်ကုန်းနေရာ တို့အစား ညောင်ဦးစိုက်ပျိုးရေးကွင်းသို့ ရွှေ့ပြောင်းစေခဲ့ခြင်းတို့ကြောင့် နေရာအရ ကျယ်ဝန်းသော်လည်း လေကြောင်းပြောင်းလဲ၍ ဘေးတိုက်လေတိုက်ခိုက်မှု ဖြစ်ပေါ် ပါက ညောင်ဦးလေဆိပ်၏ လေယာဉ်ပျံသန်းမှု ပတ်လမ်းအတွင်း ရောက်ရှိနိုင်သည့် အားနည်းချက်တွေ့ရှိရပြီး ပုဂံဒေသမီးပုံးပျံကြီးကြပ်ရေးကော်မတီ အနေဖြင့် လက်ရှိ တက်ကွင်း (Launching Area) အား အရံကွင်းများအဖြစ် ယခင် ခွင့်ပြုခဲ့သော ရွှေစည်းခုံဘုရားအနီး ဘောလုံးကွင်းနှင့် နန်းကြည့်ကုန်းနေရာတို့ကို ပြန်လည် အသုံးပြုခွင့်ရရှိရေး တိုင်းဒေသကြီးအစိုးရအဖွဲ့သို့ တင်ပြပေးစေလိုကြောင်း၊

၃။ အထက်ပါ ညှိနှိုင်းဆွေးနွေးချက်များအရ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ လေကြောင်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာနအနေဖြင့် ရှင်သန်သူအများပိုင်ကုမ္ပဏီလီမိတက်မှ ပုဂံညောင်ဦးဒေသတွင် မီးပုံးပျံလုပ်ငန်းဆောင်ရွက်လိုခြင်းကိစ္စနှင့်ပတ်သက်၍ ကန့်ကွက်ရန် မရှိပါ ကြောင်းနှင့် အဆိုပါကုမ္ပဏီအား Hot Air Balloon Operator အဖြစ် ခွင့်ပြုပေးနိုင်ရေးအတွက် Air Operate Certificate – AOC လျှောက်ထားလာပါက လုပ်ထုံးလုပ်နည်းနှင့်အညီ စိစစ် ဆောင်ရွက်ပေးသွားမည် ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ ရှင်သန်သူအများပိုင်ကုမ္ပဏီလီမိတက်မှ ပုဂံညောင်ဦးဒေသတွင် မီးပုံပျံစီး၍ ရှုခင်းများပြသခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလျှောက်ထားလာသည့် ကိစ္စအပေါ် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် စိစစ်ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဝင်းခန့် - အမြဲတမ်းအတွင်းဝန်

မိတ္တူကို-

- လေကြောင်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန
- ရုံးလက်ခံ
- မျှောစာတွဲ